အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ကဥ္စနကျွန်းသာကုမ္ပဏီလီမိတက်(Gold Delta Company Limited) မှ အကျိုးတူလယ်ယာစနစ်ဖြင့် စိုက်ပျိုးထုတ်လုပ်ခြင်း၊ ဆန်နှင့် ဆန်ထွက်ပစ္စည်းများ ကြိတ်ခွဲထုတ်လုပ် ရောင်းချခြင်းနှင့် လယ်ယာစိုက်ပျိုးရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ရင်းနှီးမြှုပ်နှံသူ | - ကဥ္စနကျွန်းသာကုမ္ပဏီလီမိတက်(Gold Delta Company Limited) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - အကျိုးတူလယ်ယာစနစ်ဖြင့် စိုက်ပျိုးထုတ်လုပ်ခြင်း၊ ဆန်နှင့် ဆန်ထွက်ပစ္စည်းများ ကြိတ်ခွဲထုတ်လုပ် ရောင်းချခြင်းနှင့် လယ်ယာစိုက်ပျိုးရေးဆိုင်ရာ ဝန်ဆောင်မှု လုပ်ငန်းများ |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်-၁၁+၂၈၊ ကွင်းအမှတ်-၂၀၁-သာပေါင်းကွင်း၊ အုန်းပင်ကွင်းကျေးရွာအုပ်စု၊ ဓနုဖြူမြို့နယ်၊ မအူပင်ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ကဥ္စနကျွန်းသာကုမ္ပဏီလီမိတက်(Gold Delta Company Limited) |
| | မြေနှင့် အဆောက်အဦ အကျယ်အဝန်း | - စုစုပေါင်းမြေဧရိယာ ၁၈.၂၁ ဧက |
| ၄။ | နှစ်စဉ်မြေနှင့်အဆောက်အဦ ငှားရမ်းခ | - ကုမ္ပဏီပိုင်မြေ |
| | မြေနှင့်အဆောက်အဦငှား ရမ်းကာလ | - - |
| ၅။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ပမာဏ | -ကျပ် ၃၅,၀၀၀ သန်း(အမေရိကန်ဒေါ်လာ ၁၇.၀၇၇ သန်း အပါအဝင်) |

| | ပြည်တွင်း (ကျပ်သန်း) | ပြည်ပ (US$ သန်း) | စုစုပေါင်း (ကျပ်သန်း) |
|---|---|---|---|
| ငွေသား | ၂,၃၂၃.၃၆ | | ၂,၃၂၃.၃၆ |
| မြေတန်ဖိုး | ၁,၈၀၀.၀၀ | | ၁,၈၀၀.၀၀ |
| စက်ပစ္စည်း | - | ၁၅.၀၁၇ | ၂၂,၅၂၅.၅၀ |
| အဆောက်အဦ တန်ဖိုး | ၅,၂၆၁.၁၄ | ၂.၀၆၀ | ၈,၃၅၁.၁၄ |
| **စုစုပေါင်း** | ၉,၃၈၄.၅၀ | ၁၇.၀၇၇ | ၃၅,၀၀၀ |

**(အမေရိကန်တစ်ဒေါ်လာလျှင် ၁၅၀၀ ကျပ်)**

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား ပြည်တွင်း | - **၁၅၀ ဦး**<br>၁၅၀ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၅၀၀,၀၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် | - ပြည်တွင်း ၆၀ %၊ ပြည်ပ ၄၀ % |

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (Ton) | | ရောင်းချမည့် ဈေးနှုန်း | |
|---|---|---|---|---|---|
| | | ပြည်တွင်း | ပြည်ပ | (ကျပ်/ Ton) | (US$/ Ton) |
| (က) | White Rice | ၇,၀၀၀ | ၁၅,၀၀၀ | ၃၅၀,၀၀၀ | ၄၇၀ |
| (ခ) | Broken Rice | ၇၅၀၀ | | ၂၀၀,၀၀၀ | |
| (ဂ) | Bran | ၄၅၀၀ | | ၁၀၀,၀၀၀ | |

အငှားလိုက်ဝန်ဆောင်မှု(ပြည်တွင်း)

| စဉ် | ဝန်ဆောင်မှု အမျိုးအစား | အရေအတွက် | ဝန်ဆောင်ခ(ကျပ်) |
|---|---|---|---|
| (က) | Tractor | ၄၀၀၀ (Acre) | ၂၀၀၀၀ |
| (ခ) | Harvester | ၄၀၀၀ (Acre) | ၃၀၀၀၀ |
| (ဂ) | Trans Planter | ၄၀၀၀ (Acre) | ၂၅၀၀၀ |
| (ဃ) | Dryer | ၃၀၀၀၀၀ (Bkt) | ၃၀၀ |
| (စ) | Rice Mill | ၇၀၀၀၀၀ (Bkt) | ၂၅၀ |
| (ဆ) | Storage | ၂၀၀၀၀၀ (Bkt) | ၂၀၀ |

| | | |
|---|---|---|
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | -၅,၆၀၀,၀၀၀ kWh |
| ၁၀။ | အခြားတင်ပြချက် | -ကဥ္စနကျွန်းသာကုမ္ပဏီလီမိတက် နှင့် တောင်သူလယ်သမားတို့ကြား ချုပ်ဆိုမည့် Contract Farming စနစ်ဖြင့် နှစ်ဦးသဘောတူ စပါးအရောင်းအဝယ် စာချုပ်နမူနာအား တင်ပြထားပါသည်။<br>- စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ ခွင့်ပြုထားသည့် မျိုးစေ့ လုပ်ငန်းလိုင်စင်အား တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၁။ | စိစစ်တင်ပြချက် | - ငွေရေးကြေးရေး အထောက်အထားအဖြစ် ကဥ္စနကျွန်းသာ ကုမ္ပဏီလီမိတက် အမည်ဖြင့် ၆-၆-၂၀၁၉ ရက်နေ့၌ Myanmar Apex ဘဏ်တွင် US$ ၈,၂၁၁.၅၇ နှင့် ၇-၆-၂၀၁၉ ရက်နေ့တွင် ကျပ် ၂၁၄,၁၀၀,၀၀၀.၀၀ ရှိကြောင်း ငွေကြေးအထောက် အထား တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများ တင်ပြထား ပါသည်။<br>- ကဥ္စနကျွန်းသာကုမ္ပဏီလီမိတက် ၏ ကုမ္ပဏီ မှတ်ပုံတင်မိတ္တူ အား တင်ပြထားပါသည်။<br>- ကဥ္စနကျွန်းသာကုမ္ပဏီလီမိတက် မှ မီးဘေး ကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်း သာယာရေး စီမံချက်၊ ဝန်ထမ်း သက်သာ ချောင်ချိရေး စီမံချက်၊ ဝန်ထမ်းများ ၏ ကျန်းမာရေး စောင့်ရှောက်မှု အစီအစဉ်တို့အား တင်ပြထား ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ISIC-0112 နှင့် CPC-73121တွင် အကျုံးဝင် ပါသည်။<br>- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာ စာအမှတ် (၁၃/၂၀၁၇) အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု စာရင်း တွင်ပါဝင်ပါသည်။<br>- စက်ပစ္စည်းများနှင့် ဆောက်လုပ်ရေးသုံးပစ္စည်းများအား ပြည်ပမှ တင်သွင်းမည် ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် အကျိုးတူလယ်ယာစနစ်ဖြင့် စိုက်ပျိုး ထုတ်လုပ်ခြင်း၊ ဆန်နှင့် ဆန်ထွက်ပစ္စည်းများ ကြိတ်ခွဲ ထုတ်လုပ် ရောင်းချခြင်းနှင့် လယ်ယာစိုက်ပျိုးရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းများကို ဆောင်ရွက်မည်ဖြစ်ပြီး လုပ်ငန်း များအတွက် ရေလမ်းကို အသုံးပြုမည့် သင်္ဘောများ၊ မော်တော် များ ဆိုက်ကပ်နိုင်သော ဆိပ်ခံတံတားတစ်စင်းကိုလည်း ဆောက်လုပ်မည်ဖြစ်ပါသည်။<br>- လုပ်ငန်းဆောင်ရွက်မည့် ၁၈.၂၁ ဧကအနက်မှ ၅.၃၉ ဧကမှာ လယ်ယာမြေအခြားနည်းအသုံးပြုခွင့် ရရှိထားပြီး ၁၂.၈၂ ဧက မှာ လယ်ယာမြေ အခြားနည်းအသုံးပြုခွင့် လျှောက်ထားဆဲ ဖြစ်ပါသည်။<br>- ကုမ္ပဏီပိုင်မြေ ဧက ၂၀.၂၁ ဧကတွင် လုပ်ငန်းဆောင်ရွက်ရန် |

| | | |
|---|---|---|
| | | ကျွန် ၂ ကေ၏ အထောက်အထားများ ထပ်မံတင်ပြမည်ဖြစ်ပါကြောင်းနှင့် လယ်ယာမြေပုံစံ-၇ များလည်း ပူးတွဲ တင်ပြထားပါသည်။ |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ ခ-၀၄၉ / ၂၀၁၉( ၃၀၉ )

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် အောက်တိုဘာလ ၄ ရက်

### မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ရခိုင်နှုန်းပြည့်မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ကန္တနကျွန်းသာ ကုမ္ပဏီလီမိတက်(Gold Delta Company Limited) မှ အကျိုးတူလယ်ယာစနစ်ဖြင့် စိုက်ပျိုးထုတ်လုပ်ခြင်း၊ ဆန်နှင့် ဆန်ထွက်ပစ္စည်းများ ကြိတ်ခွဲထုတ်လုပ် ရောင်းချခြင်းနှင့် လယ်ယာစိုက်ပျိုးရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

၁။ ရခိုင်နှုန်းပြည့်မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ကန္တနကျွန်းသာ ကုမ္ပဏီလီမိတက် (Gold Delta Company Limited) မှ ဦးပိုင်အမှတ်-၁၁+၂၈၊ ကွင်းအမှတ်-၂၀၁ သာပေါင်းကွင်း၊ အုန်းပင်ကွင်းကျေးရွာအုပ်စု၊ ငပုတော/မြို့နယ်၊ မအူပင်ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီး အတွင်းရှိ စုစုပေါင်းမြေနှင့် အဆောက်အဦဧရိယာ ၁၈.၂၁ ဧကကို ငှားရမ်း၍ အကျိုးတူလယ်ယာစနစ်ဖြင့် စိုက်ပျိုးထုတ်လုပ်ခြင်း၊ ဆန်နှင့် ဆန်ထွက်ပစ္စည်းများ ကြိတ်ခွဲထုတ်လုပ် ရောင်းချခြင်းနှင့် လယ်ယာစိုက်ပျိုးရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ကန္တနကျွန်းသာ ကုမ္ပဏီလီမိတက် (Gold Delta Company Limited) နှင့် တောင်သူလယ်သမားတို့ကြားချုပ်ဆိုထားသော အကျိုးတူလယ်ယာစိုက်ပျိုးစနစ်ဖြင့် နှစ်ဦးသဘောတူ စပါးအရောင်းအဝယ် စာချုပ်နမူနာ(မူကြမ်း)နှင့် မြေစာရင်းပုံစံ-၁၀၅၊ လယ်ယာမြေပုံစံ-၇တို့အား တင်ပြထားပါသည်။

၃။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၃၅,၀၀၀ သန်း(အမေရိကန်ဒေါ်လာ ၁၇.၀၇၇ သန်းအပါအဝင်) ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | ပြည်တွင်း (ကျပ်သန်း) | ပြည်ပ (US$သန်း) | စုစုပေါင်း (ကျပ်သန်း) |
|---|---|---|---|
| ငွေသား | ၂,၃၂၃.၃၆ | | ၂,၃၂၃.၃၆ |
| မြေတန်ဖိုး | ၁,၈၀၀.၀၀ | | ၁,၈၀၀.၀၀ |
| စက်ပစ္စည်း | - | ၁၅.၀၁၇ | ၂၂,၅၂၅.၅၀ |
| အဆောက်အဦတန်ဖိုး | ၅,၂၆၁.၁၄ | ၂,၀၆၀ | ၈,၃၅၁.၁၄ |
| **စုစုပေါင်း** | **၉,၃၈၄.၅၀** | **၁၇.၀၇၇** | **၃၅,၀၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၁၅၀ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၅၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ပစ္စည်းများကို ပြည်တွင်း ၆၀% နှင့် ပြည်ပ ၄၀% ရောင်းချမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (Ton) | | ရောင်းချမည့်ဈေးနှုန်း | |
|---|---|---|---|---|---|
| | | ပြည်တွင်း | ပြည်ပ | (ကျပ်/ Ton) | (US$/ Ton) |
| (က) | White Rice | ၇,၀၀၀ | ၁၅,၀၀၀ | ၃၅၀,၀၀၀ | ၄၇၀ |
| (ခ) | Broken Rice | ၇၅၀၀ | | ၂၀၀,၀၀၀ | |
| (ဂ) | Bran | ၄၅၀၀ | | ၁၀၀,၀၀၀ | |

အငှားလိုက်ဝန်ဆောင်မှု(ပြည်တွင်း)

| စဉ် | ဝန်ဆောင်မှု အမျိုးအစား | အရေအတွက် | ဝန်ဆောင်ခ(ကျပ်) |
|---|---|---|---|
| (က) | Tractor | ၄၀၀၀ (Acre) | ၂၀၀၀၀ |
| (ခ) | Harvester | ၄၀၀၀ (Acre) | ၃၀၀၀၀ |
| (ဂ) | Trans Planter | ၄၀၀၀ (Acre) | ၂၅၀၀၀ |
| (ဃ) | Dryer | ၃၀၀၀၀၀ (Bkt) | ၃၀၀ |
| (င) | Rice Mill | ၇၀၀၀၀၀ (Bkt) | ၂၅၀ |
| (စ) | Storage | ၂၀၀၀၀၀ (Bkt) | ၂၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်–

(က) ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ နောက်ဆက်တွဲ–က

(ခ) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ နောက်ဆက်တွဲ–ခ

(ဂ) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ ကဥ္စနကျွန်းသာကုမ္ပဏီလီမိတက် (Gold Delta Company Limited)အနေဖြင့် ရေကြောင်းရေလမ်းကို အသုံးပြု၍ ဆိပ်ခံတံတား တည်ဆောက် အသုံးပြုမည်ဖြစ်ကြောင်း သိရှိရပြီး ဆိပ်ခံတံတား တည်ဆောက် အသုံးပြုမည်ဆိုပါက ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာနသို့ အဆိုပြုဆိပ်ခံတံတား ဒီဇိုင်းများဖြင့် ပြည့်စုံစွာ လျှောက်ထား ဆောင်ရွက်ရမည်ဖြစ်ပါကြောင်း၊ ထိုအပြင် ကဥ္စနကျွန်းသာကုမ္ပဏီလီမိတက် (Gold Delta Company Limited)မှ ငှားရမ်း ဆောင်ရွက်မည့် မြေနေရာနှင့် ဆိပ်ခံတံတားသို့ သီးခြားအဆင်းလမ်း မရှိခြင်းကြောင့် အဆင်းလမ်းဆောင်ရွက်မည့် နေရာ၏ မြေပိုင်ရှင်များနှင့် ညှိနှိုင်းခြင်း၊ ဆည်မြောင်း မြေသားတာကို ဖြတ်ကျော်၍ ဆောင်ရွက်မည်ဖြစ်သဖြင့် ဆည်မြောင်းနှင့် ရေအသုံးချမှု စီမံခန့်ခွဲရေးဦးစီးဌာနထံ

သဘောထားတောင်းခံ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါ ကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

(ဃ) **စက်မှုဝန်ကြီးဌာန**မှ စက်ပစ္စည်းတန်ဖိုးများမှာ အနီးစပ်ဆုံး မှန်ကန်မှုရှိ၍ အသုံးပြုမည့်စက်ပစ္စည်းများနှင့် ကုန်ကြမ်းများမှာ အမှန်တကယ် လိုအပ်ကြောင်း စိစစ်တွေ့ရှိရပြီး Energy သုံးစွဲမှု နည်းသောစက်ပစ္စည်းများဖြစ်ရန်နှင့် ထိခိုက်မှုနည်းစေရန် အစီအမံများပါရှိရန်၊ တင်သွင်းမည့် မီးစက်များမှာ Efficient ဖြစ်ရန်နှင့် တုန်ခါမှု၊ အသံဆူညံမှုနည်းသော Sound Proof Type မီးစက်များဖြစ်ရန်၊ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ခြင်းအတွက် လူနှင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု မရှိစေရေးနှင့် စက်ရုံအတွင်း လုပ်သားများ၏ ကျန်းမာရေး စောင့်ရှောက်မှုတို့ကို စနစ်တကျ အစီအမံများ ရေးဆွဲပြီး ကြပ်မတ် ထိန်းသိမ်းဆောင်ရွက်ရန်၊ Biomass Power Generation Plant (1-1.5 MW) အတွက် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေရေး စီမံဆောင်ရွက်ရန်နှင့် ဘွိုင်လာဥပဒေ၊ လျှပ်စစ်ဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်ရန်လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-ဃ**

(င) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန**မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment- EIA) ဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကို ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားပြန် ကြားထားပါသည်။

**နောက်ဆက်တွဲ-င**

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် ကဥ္စနကျွန်းသာ ကုမ္ပဏီလီမိတက်(Gold Delta Company Limited) အမည်ဖြင့် Myanmar Apex တွင် ၆-၆-၂၀၁၉ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၈,၂၁၁.၅၇ နှင့် ၇-၆-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၂၁၄,၁၀၀,၀၀၀.၀၀ ရှိကြောင်း ငွေကြေး အထောက်အထား တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

( ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအစဉ်နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်များကိုလည်း တင်ပြထားပါသည်။

(ဂ) လုပ်ငန်းအတွက် လိုအပ်မည့် စက်ပစ္စည်းများအား ပြည်ပမှ တင်သွင်းမည်ဖြစ်ပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်မည့် ၁၈.၂၁ ဧကအနက်မှ ၅.၃၉ ဧကမှာ လယ်ယာမြေ အခြားနည်းအသုံးပြုခွင့်ရရှိထားပြီး ၁၂.၈၂ ဧကမှာ လယ်ယာမြေ အခြားနည်းအသုံးပြုခွင့်လျှောက်ထားဆဲ နှင့် ကုမ္ပဏီပိုင်မြေ ဧက ၂၀.၂၁ ဧကတွင် လုပ်ငန်းဆောင်ရွက်ရန် ကျန် ၂ ဧက၏ အထောက်အထားများ ထပ်မံ တင်ပြမည့်ဖြစ်ကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ရခိုင်နူန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ကဥ္စနကျွန်းသာ ကုမ္ပဏီလီမိတက် (Gold Delta Company Limited) မှ အကျိုးတူလယ်ယာစနစ်ဖြင့် စိုက်ပျိုးထုတ်လုပ်ခြင်း၊ ဆန်နှင့် ဆန်ထွက်ပစ္စည်းများ ကြိတ်ခွဲထုတ်လုပ် ရောင်းချခြင်းနှင့် လယ်ယာစိုက်ပျိုးရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းများ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဌ(ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/ မျှောစာတွဲ

နောက်ဆက်တွဲ-က

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

တိုင်းဒေသကြီးအစိုးရအဖွဲ့

ဧရာဝတီတိုင်းဒေသကြီး

စာအမှတ်၊ ၄၀၀/ ၄ - ၈( ၂ )/ အစိုးရ (ဧရာဝတီ)

ရက် စွဲ၊ ၂၀၁၉ ခုနှစ်၊ ဩဂုတ်လ ၁၄ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၁.၇.၂၀၁၉) ရက်စွဲပါစာအမှတ်၊ မရက-၂ / ခ- ၀၄၉ / ၂၀၁၉ (၂၂၈)

၁။ ရခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ကဥ္စနကျွန်းသာကုမ္ပဏီလီမိတက် (Gold Delta Company Limited)မှ ဦးပိုင်အမှတ် - ၁၁ + ၂၈၊ ကွင်းအမှတ် - ၂၀၁ - သာပေါင်း၊ အုန်းပင်ကွင်းကျေးရွာအုပ်စု၊ ဓနုဖြူမြို့နယ်၊ မအူပင်ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီး အတွင်းရှိ စုစုပေါင်းမြေဧရိယာ (၂၀.၂၁)ဧကအနက်မှ မြေဧက(၁၈.၂၁)ဧကကို ငှားရမ်း၍ ပေါင်းဆန်နှင့် အဆင့်မြင့်ဆန်ဖြူစိုက်ပျိုးထုတ်လုပ်ကြိတ်ခွဲခြင်း၊ ၎င်းနှင့် ဆက်စပ်သော လယ်ယာ သုံးစက်ပစ္စည်းများ အငှားလိုက်ခြင်း၊ အဆင့်မြင့်လယ်ယာကွက်များ ဖော်ထုတ်ပေးခြင်းလုပ်ငန်း အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြသည့်ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက်များအား လိုအပ်သလို ဆက်လက် ဆောင်ရွက်နိုင်ရန် သဘောထားပေးပို့တင်ပြအပ်ပါသည် -

(က) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်ခြင်း ရှိ/မရှိ။**

ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ ဓနုဖြူ မြို့နယ်၊ အုန်းပင်ကွင်းကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် - ၁၁ + ၂၈၊ ကွင်းအမှတ် - ၂၀၁ - သာပေါင်းရှိ မြေဧရိယာ (၂၀.၂၁)ဧကသည် နောင်ပြုလုပ်မည့် (သို့) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

(ခ) **မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်/မဖြစ်။**

ကဥ္စနကျွန်းသာကုမ္ပဏီလီမိတက် (Gold Delta Company Limited) ၏ ယခုအဆိုပြုတင်ပြလာသည့် ပေါင်းဆန်နှင့် အဆင့်မြင့်ဆန်ဖြူစိုက်ပျိုးထုတ်လုပ်ကြိတ်ခွဲခြင်း၊ ၎င်းနှင့်ဆက်စပ်သော လယ်ယာသုံးစက်ပစ္စည်းများ အငှားလိုက်ခြင်း၊ အဆင့်မြင့်လယ်ယာကွက်များ ဖော်ထုတ်ပေးခြင်းလုပ်ငန်းအစရှိသည့် ဝန်ဆောင်မှုလုပ်ငန်းပြုလုပ်သည့်အတွက် ဒေသခံပြည်သူများအလုပ်အကိုင်၊ အခွင့်အလမ်းများနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

(ဂ) **ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/မရှိ။**

အဆိုပြုလျှောက်ထားလာသည့် ကဥ္စနကျွန်းသာကုမ္ပဏီလီမိတက် (Gold Delta Company Limited)၏ ပေါင်းဆန်နှင့် အဆင့်မြင့်ဆန်ဖြူစိုက်ပျိုးထုတ်လုပ်ကြိတ်ခွဲခြင်း၊ ၎င်းနှင့်ဆက်စပ်သော လယ်ယာသုံးစက်ပစ္စည်းများ အငှားလိုက်ခြင်း၊ အဆင့်မြင့်လယ်ယာကွက်များ ဖော်ထုတ်ပေးခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ ထိခိုက်နိုင်ခြင်းမရှိပါကြောင်း ထောက်ခံအပ်ပါသည်။

(ဃ) **လုပ်ငန်းဆောင်ရွက်မည့်မြေနေရာ ဟုတ်/မဟုတ်။**

အဆိုပြုတင်ပြထားသည့် မြေနေရာသည် ကဥ္စနကျွန်းသာကုမ္ပဏီလီမိတက် (Gold Delta Company Limited)၏ ယခုအဆိုပြုတင်ပြလာသည့် ပေါင်းဆန်နှင့် အဆင့်မြင့်ဆန်ဖြူစိုက်ပျိုးထုတ်လုပ် ကြိတ်ခွဲခြင်း၊ ၎င်းနှင့်ဆက်စပ်သော လယ်ယာသုံးစက်ပစ္စည်းများ အငှားလိုက်ခြင်း၊ အဆင့်မြင့်လယ်ယာကွက်များဖော်ထုတ်ပေးခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက်သင့်တော်သည့်မြေနေရာဖြစ်ပါကြောင်း ထောက်ခံအပ်ပါသည်။

(င) **ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ အကြံပြုချက်**

ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ပြောင်းလဲလာသည့်ခေတ်စနစ်၊ ဥပဒေများနှင့်အညီ တိုင်းဒေသကြီးအတွင်းရှိ ဒေသခံပြည်သူတို့၏အလုပ်အကိုင်အခွင့်အလမ်းများရရှိရေး၊ ကျန်းမာရေးအတွက်အထောက်အကူဖြစ်စေရေး၊ စီးပွားရေးဖွံ့ဖြိုးတိုးတက်စေရေးတို့ကို ဦးစားပေးဆောင်ရွက်လျက်ရှိပါသဖြင့် ယခုအဆိုပြု

လာသည့် ကဥ္စနက္ခန်းသာကုမ္ပဏီလီမိတက် (Gold Delta Company Limited)၏ ပေါင်းဆန်နှင့် အဆင့်မြင့်ဆန်ဖြူ စိုက်ပျိုးထုတ်လုပ်ကြိတ်ခွဲခြင်း၊ ၎င်းနှင့်ဆက်စပ်သော လယ်ယာသုံးစက်ပစ္စည်းများ အငှားလိုက်ခြင်း၊ အဆင့်မြင့် လယ်ယာကွက်များ ဖော်ထုတ်ပေးခြင်းလုပ်ငန်းသည် ဧရာဝတီတိုင်းဒေသကြီး အတွင်း အကျိုးရှိစေမည့်လုပ်ငန်းဖြစ်ပါသဖြင့် အဆိုပါလုပ်ငန်းအား ဧရာဝတီ တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ထောက်ခံပါကြောင်း အကြံပြုအပ်ပါသည်။

၁၄/၈/၁၈

ဝန်ကြီးချုပ်( ကိုယ်စား )

(ငွေးဝင်း၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး )

မိတ္တူကို

ညွှန်ကြားရေးမှူး၊ ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန၊ ပုသိမ်မြို့

ကဥ္စနက္ခန်းသာကုမ္ပဏီလီမိတက်(Gold Delta Company Limited)

လှည့်လည်စာတွဲ

ရုံးလက်ခံ

နောက်ဆက်တွဲ- ခ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊၄/၉၀(က)(၁)( ၃၇၂၀ /၂၀၁၉)(လဆ)
ရက်စွဲ ။ ၂၀၁၉ ခုနှစ်၊ စက်တင်ဘာလ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ် သဘောထားပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁.၇.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၄၉ / ၂၀၁၉ (၂၂၉)

၁။ ကဥ္စနကျွန်းသာ ကုမ္ပဏီလီမိတက် (Gold Delta Company Limited )မှ ဦးပိုင်အမှတ်- ၁၁+၂၈၊ ကွင်းအမှတ်- ၂၀၁ - သာပေါင်း၊ အုန်းပင်ကွင်းကျေးရွာအုပ်စု၊ ငပုတော်မြို့နယ်၊ မအူပင်ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီးအတွင်းရှိ စုစုပေါင်းမြေဧရိယာ (၂၀.၂၁)ဧကအနက်မှ (၁၈.၂၁)ဧကကို ငှားရမ်း၍ ပေါင်းဆန်နှင့်အဆင့်မြင့်ဆန်မျိုး စိုက်ပျိုးထုတ်လုပ် ကြိတ်ခွဲခြင်း၊ ၎င်းနှင့် ဆက်စပ်သော လယ်ယာသုံးစက်ပစ္စည်းများ အငှားလိုက်ခြင်း၊ အဆင့်မြင့် လယ်ယာကွက်များ ဖော်ထုတ်ပေးခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် ပတ်သက်၍ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်အား ပြန်ကြားနိုင်ရေးအတွက် စိုက်ပျိုးရေးဦးစီးဌာန ၊ဆည်မြောင်းနှင့်ရေအသုံးချမှုစီမံခန့်ခွဲရေးဦးစီးဌာနနှင့်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန (၃)ခုတို့မှ စိစစ်ဆောင်ရွက်မှုပြုခဲ့ပါသည်။

၃။ စိုက်ပျိုးရေးဦးစီးဌာနမှ စိစစ်ဆောင်ရွက်ချက်အရ အဆိုပြုလုပ်ငန်းသည် အကျိုးတူ ကန်ထရိုက် လယ်ယာလုပ်ငန်းဖြင့် စိုက်ပျိုးထုတ်လုပ်ကြိတ်ခွဲခြင်း၊ ဆန်စပါးနှင့်အခြားသီးနှံများ အခြောက်ခံသိုလှောင်ကြိတ်ခွဲခြင်း၊ စက်မှုလယ်ယာ အငှားလိုက်ဝန်ဆောင်မှု ၊ ဓါတ်မြေဩဇာနှင့် မျိုးစေ့ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းများကို ဆောင်ရွက်မည်ဖြစ်သဖြင့် ကဥ္စနကျွန်းသာကုမ္ပဏီ လီမိတက် (Gold Delta Company Limited)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ပါက ကန့်ကွက်ရန် မရှိကြောင်း တင်ပြထားရှိပါသည်။

၄။ လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန၏ စိစစ်တင်ပြချက်အရ လျှောက်ထားသော မြေနေရာသည် ငပုတော်မြို့နယ်၊ အုန်းပင်ကွင်းကျေးရွာအုပ်စု၊ ကွင်းအမှတ် (၂၀၁)၊ ဦးပိုင်အမှတ် (၁၁၊၁၈)၊ (၁၂.၄၆+၇.၇၅=၂၀.၂၁)ဧကရှိ ကဥ္စနကျွန်းသာကုမ္ပဏီအမည်ဖြင့် ပုံစံ (၇)ရရှိထားသောမြေ

ဖြစ်ပြီး အဆိုပါမြေအတွင်း လယ်ယာမြေအခြားနည်းအသုံးပြုခွင့်လျှောက်ထားမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါကြောင်း တင်ပြထားရှိပါသည်။

| စဉ် | ကွင်း အမှတ် | ဦးပိုင် အမှတ် | ဧရိယာ (ဧက) | လယ်ယာမြေအခြားနည်းအသုံးပြုခွင့် လျှောက်ထားမှုအခြေအနေ | | | |
|---|---|---|---|---|---|---|---|
| | | | | အခြားနည်း အသုံးပြုခွင့် ရရှိပြီး ဧရိယာ (ဧက) | အခြားနည်း အသုံးပြုခွင့် လျှောက်ထား ဆဲဧရိယာ (ဧက) | အခြားနည်း အသုံးပြုခွင့် လျှောက်ထားမှု မရှိသော ဧရိယာ(ဧက) | စုစုပေါင်း ဧရိယာ (ဧက) |
| ၁ | ၂၀၁ | ၁၁ | ၁၂.၄၆ | ၂.၀၀ | ၈.၆၅ | ၁.၈၁ | ၁၂.၄၆ |
| ၂ | ၂၀၁ | ၂၈ | ၇.၇၅ | ၃.၃၉ | ၄.၁၇ | ၀.၁၉ | ၇.၇၅ |
| စုစုပေါင်း | | | ၂၀.၂၁ | ၅.၃၉ | ၁၂.၈၂ | ၂.၀၀ | ၂၀.၂၁ |

(က) ဦးပိုင်အမှတ်(၁၁)၊ ဧရိယာ(၁၂.၄၆)ကေအနက် (၂.၀၀)ကေနှင့် ဦးပိုင်အမှတ်(၂၈)၊ ဧရိယာ (၇.၇၅)ကေ အနက်(၃.၃၉)ကေ၊ စုစုပေါင်းဧရိယာ(၅.၃၉)ကေအား ဦးချစ်ခိုင် (ကဒ္ဒနကျွန်းသာကုမ္ပဏီလီမိတက်)မှ ဒေသအခြေပြု လယ်ယာစီးပွားရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းဌာနမြေနေရာအဖြစ် အသုံးပြုရန် ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှု အဖွဲ့၏ (၁၈.၃.၂၀၁၆)ရက်စွဲပါစာဖြင့် လယ်ယာမြေ အခြားနည်းအသုံးပြုခွင့်ပြုမိန့်ရရှိ ထားပြီးဖြစ်ကြောင်း၊

(ခ) ဦးချစ်ခိုင် (ကဒ္ဒနကျွန်းသာကုမ္ပဏီလီမိတက်)မှ ဦးပိုင်အမှတ်(၂၈)၊ ဧရိယာ(၄.၃၆)ကေ အနက် (၁.၈၉)ကေအား သီးနှံသိုလှောင်ရုံမြေအဖြစ် လယ်ယာမြေကိုအခြားနည်းအသုံးပြုခွင့် လျှောက်ထားခဲ့ရာ ခရိုင်လယ်/စီအင်းမှ စိစစ်ဆဲဖြစ်ကြောင်း၊ ဦးပိုင်အမှတ်(၂၈)၊ ဧရိယာ (၂.၂၈)ကေနှင့်ဦးပိုင်အမှတ်(၁၁)၊ ဧရိယာ(၁၀.၄၆)ကေအနက်မှ (၈.၆၅)ကေ၊ စုစုပေါင်း (၁၀.၉၃)ကေကို ဒေသအခြေပြု လယ်ယာစီးပွားရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းဌာန မြေနေရာအဖြစ်၊ လယ်ယာမြေကိုအခြားနည်းဖြင့်အသုံးပြုရန် လျှောက်ထားခဲ့ရာ မြို့နယ် လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့မှ စိစစ်ဆောင်ရွက်ဆဲဖြစ်ကြောင်း၊

(ဂ) ကဒ္ဒနကျွန်းသာကုမ္ပဏီလီမိတက်သည် လက်ရှိမြေပြင်တွင် ပုံစံ(၇)ရရှိထားသော ဧရိယာ (၂၀.၂၁)ကေအနက် ခွင့်ပြုမိန့်ရရှိထားသည့် (၅.၃၉)ကေကို ဒေသအခြေပြု လယ်ယာ စီးပွားရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းဌာနမြေနေရာအဖြစ် အသုံးပြုလျက်ရှိပြီး

ကျန်လယ်ယာမြေရေိယာ (၁၄.၈၂)ဧကကို ဝယ်ယူခဲ့သည့် (၂၀၀၉)ခုနှစ်မှစတင်၍ ယခု(၂၀၁၉)ခုနှစ်အထိ မိုးစပါးစိုက်ပျိုးလုပ်ကိုင်လျက်ရှိကြောင်း၊

၅။ ကဥ္စနကျွန်းသာကုမ္ပဏီလီမိတက်မှ တင်ပြစာပါမြေ(၁၈.၂၁)ဧကအနက် (၅.၃၉) ဧကကို ဒေသအခြေပြုလယ်ယာစီးပွားရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်း၌ာန မြေနေရာအဖြစ် အသုံးပြုရန် ခွင့်ပြုမိန့်ရရှိခဲ့ပြီးဖြစ်ခြင်း၊ ရေိယာ(၁.၈၉)ဧကကို သီးနှံသိုလှောင်ရုံမြေနေရာအဖြစ် လည်းကောင်း၊ (၁၀.၉၃)ဧကကို ဒေသအခြေပြုလယ်ယာစီးပွားရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်း မြေနေရာအဖြစ် လည်းကောင်း၊လယ်ယာမြေကို အခြားနည်းအသုံးပြုရန် ၂၀၁၂ခုနှစ်လယ်ယာမြေ ဥပဒေ၊ နည်းဥပဒေ များနှင့်အညီ လယ်ယာမြေကိုအခြားနည်းအသုံးပြုရန် လျှောက်ထားဆဲဖြစ်သောကြောင့် ကန့်ကွက်ရန် မရှိပါကြောင်းနှင့် လယ်ယာမြေအခြားနည်းအသုံးပြုရန် လျှောက်ထားဆဲရေိယာ (၁၂.၈၂)ဧကအတွက် လယ်ယာမြေဥပဒေ၊ နည်းဥပဒေများနှင့်အညီ ခွင့်ပြုမိန့်ရရှိပြီးမှသာ လုပ်ငန်းဆောင်ရွက်စေသင့် ပါကြောင်း စိစစ်တင်ပြထားရှိပါသည်။

၆။ ဆည်မြောင်းနှင့်ရေအသုံးချမှုစီမံခန့်ခွဲရေးဦးစီး၌ာန၏ စိစစ်တင်ပြချက်အရ ကဥ္စနကျွန်းသာ ကုမ္ပဏီလီမိတက် (Golden Delta Company Limited)မှ မြေနေရာ ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်မည့်နေရာသည် ဆည်မြောင်းနှင့် ရေအသုံးချမှုစီမံခန့်ခွဲရေးဦးစီး၌ာနမှ တည် ဆောက်ထိန်းသိမ်းထားရှိသော ရောဝတီ – ဟသ်ာတဘက်ကမ်းတာ တာမိုင် ၄၆/၅+၆၁၀'မှ ၄၆/ ၆+၄၅၀' အတွင်း တည်ရှိပါသည်။ တာတမံ၏အတွင်းဘက် (ကွင်းဘက်ခြမ်း)တွင် တည်ရှိပါသည်။ ကုမ္ပဏီအနေဖြင့် တင်ပြစာပါ လုပ်ငန်းများဆောင်ရွက်ရာတွင် တာတမံ၏အရှေ့ဘက် (၃၀၀)ပေ ခန့်အကွာ၌ရှိသော ရောဝတီမြစ်ကမ်းတွင် ဆိပ်ခံတံတား(၂)စင်း တည်ဆောက် အသုံးပြုမည်ဖြစ် ကြောင်း သိရှိရပြီး ဆိပ်ခံတံတားအဆင်းလမ်းများသည် တာမိုင် ၄၆/၅ + ၆၁၀' နှင့် တာမိုင် ၄၆/၆ + ၄၅၀'တို့တွင် စုစုပေါင်း(၂)နေရာ ဖြတ်ကျော်ရမည်ဖြစ်ကာ တာတမံပေါ်သို့ ဖြတ်ကျော်မည့်လမ်းများ ၏ အကျယ်မှာ (၁၈)ပေစီ ကျယ်ဝန်းမည်ဖြစ်ပါသည်။

၇။ ကဥ္စနကျွန်းသာ ကုမ္ပဏီလီမိတက် (Golden Delta Company Limited ) မှ ဆိပ်ခံ တံတားလမ်း ဖြတ်ကူးရန်ဆောင်ရွက်ရာတွင် ရောဝတီ-ဟသ်ာတဘက် ကမ်းတာ၏ ဒီဇိုင်းပြု တွက်ချက်ထားသော တာထိပ်အမြင့် RL. (၃၉.၀၁) ပေ ပြည့်မီအောင် ၌ာနမှသတ်မှတ်ထားသည့် ဒီဇိုင်းပုံစံအတိုင်း ဆောင်ရွက်ရန်လိုအပ်ပါကြောင်းနှင့် ကုမ္ပဏီ၏ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ သည် တာတမံ၏ ကွင်းဘက်ခြမ်း နယ်နိမိတ်ရေိယာနှင့် ထိစပ်လျက်ရှိနေသည့်အတွက် တာတမံ၏အလယ်ဗဟိုမှ (၆၂)ပေခွာ၍ လုပ်ငန်းများဆောင်ရွက်သွားရန်လိုအပ်ပြီး ကဥ္စနကျွန်းသာ ကုမ္ပဏီအနေဖြင့်၌ာနမှ သတ်မှတ်ပြဋ္ဌာန်းထားသော သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင် ရွက် မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြထားရှိပါသည်။

၈။ သို့ဖြစ်ပါ၍စိုက်ပျိုးရေးဦးစီးဌာန၊ ဆည်မြောင်းနှင့်ရေအသုံးချမှု စီမံခန့်ခွဲရေးဦးစီးဌာနနှင့် လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန (၃)ခုတို့၏ စိစစ်ဆောင်ရွက်ချက်အား ကဠုနကျွန်းသာ ကုမ္ပဏီလီမိတက် (Gold Delta Company Limited)မှ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အား လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်နိုင်ရေးအတွက် ပေးပို့ပြန်ကြားအပ်ပါသည်။

ပူးတွဲ - လယ်ယာဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်မည့်မြေနေရာတည်နေရာပြပုံ (၁)ပုံ

- တာနယ်နိမိတ်တွက်ချက်ပုံ/ ကုန်းတွင်းတာ နယ်နိမိတ်တွက်ချက်မှု (၂)ရွက်

- ပြန်လည်ပြုပြင်ရန်လိုအပ်သော ဒီဖိုင်းပုံစံ (၁)ပုံ

၇.၇.၁၉

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးတင့်ထွန်း၊ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူ

စိုက်ပျိုးရေးဦးစီးဌာန
ဆည်မြောင်းနှင့်ရေအသုံးချမှုစီမံခန့်ခွဲရေးဦးစီးဌာန
လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန

ဓနုဖြူမြို့နယ် အုန်းပင်ကွင်းကျေးရွာအုပ်စု၊ ကွင်းအမှတ် (၂၀၁) အတွင်းရှိ Golden Delta Company Limited မှ ငှားရမ်း၍ လယ်ယာဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်မည့်မြေနေရာ တည်နေရာပြပုံ



## ဧရာဝတီဟင်္သာတဘက်ကမ်းတာ တာမိုင် ၄၆/၅+၆၁၀ မှ ၄၆/၆+၄၅၀ နေရာအတွင်း တာနယ်နိမိတ် တွက်ချက်ပုံ

### ကုန်းတွင်း တာနယ်နိမိတ် တွက်ချက်မှု

| | | | | Reference |
|---|---|---|---|---|
| ACL | = | ၃၉.၀၁ | ပေ | Up date ACL 2010 @ 0/0 mile |
| NGL | = | ၂၄.၅၀ | ပေ | Measured @ 18/1 mile |
| မူလ တာအမြင့် | = | ၁၄.၅၁ | ပေ | Calculation |
| တာထိပ်ဝအကျယ် | = | ၁၂ | ပေ | Original Design |
| တာစောင်း | = | ၁ : ၂.၅ | | care of embankment (page 19) |
| အောက်ခြေအကျယ် | = | ၈၅ | ပေ | Calculation |
| စင်တာမှတာခြေအထိ ( B ) | = | ၄၂ | ပေ | Calculation |
| လှည်းလမ်းကူးချန် | = | ၂၀ | ပေ | care of embankment (page 14) |
| ကုန်းတွင်းဘက်နယ်နိမိတ် | = | ၆၂.၂၈ | ပေ | (တာ၏စင်တာမှ) |
| ဆို | = | ၆၂ | ပေ | ( A ) |

### မြစ်ဘက် တာနယ်နိမိတ် တွက်ချက်မှု

| | | | | |
|---|---|---|---|---|
| စင်တာမှတာခြေအထိ ( B ) | = | ၄၂ | ပေ | Calculation |
| မြေကျင်း (Borrow pit) အနက် | = | ၆ | ပေ | Depend on Local condition |
| မြေကျင်း (Borrow pit) အကျယ် ( D | = | ၂၀ | ပေ | Depend on resection Embank; |
| မြစ်ဘက် Berm အကျယ် ( C ) | = | ၄၀ | ပေ | care of embankment (page 14) |
| မြစ်ဘက် နယ်နိမိတ် | = | ၁၀၂ | ပေ | (တာ၏စင်တာမှ) |
| ဆို | = | ၁၀၂ | ပေ | |

| | | | | |
|---|---|---|---|---|
| စုစုပေါင်း တာနယ်နိမိတ် | = | ၁၆၄ | ပေ | ( A+B+C+D ) |

ခနောင်မြို့နယ် အနီးပင်ကွင်းကျေးရွာအုပ်စု၊ ကွင်းအမှတ် ( ၂၀၁ ) အတွင်းရှိ Golden Delta Company Limited မှ ငှားရမ်း၍ လယ်ယာဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်မည့်မြေနေရာ အနီးရှိ ဆည်မြောင်းတာတမံနယ်နိမိတ်သတ်မှတ်ချက်



# ဆပ်ခံတံတား ချဉ်းကပ်လမ်းအတွက် ဆည်မြောင်းမြေသားတာပေါင်အားဖြတ်ကျော်မည့်နေရာတွင် ပြန်လည်ပြုပြင်ရန်လိုအပ်သော ဒီဇိုင်းပုံစံ




ရည်ညွှန်းချက်

- လက်ရှိတာတမံ
- တာတမံပြုပြင်ရန်လိုအပ်သော ဒီဇိုင်းပုံစံ
- အတက်အဆင်းလမ်းအတွက်လိုအပ်သောအမာခံအလွှာ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ပဆ-(၃)/(သဘောထား-DWIR)/(၁၄)
ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဩဂုတ်လ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁-၇-၂၀၁၉ ရက်စွဲပါ စာအမှတ်၊ မရက-၂/ခ-၀၄၉/၂၀၁၉(၂၃၁)

၁။ ရခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ကဥ္စနကျွန်းသာ ကုမ္ပဏီလီမိတက် (Gold Delta Company Limited) မှ ဦးပိုင်အမှတ်- ၁၁+၂၈၊ ကွင်းအမှတ်-၂၀၁-သာပေါင်း၊ အုန်းပင်ကွင်း ကျေးရွာအုပ်စု၊ ငပုတော/ဖျာပုံ... ဓနုဖြူမြို့နယ်၊ မအူပင်ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီးအတွင်းရှိ စုစုပေါင်း မြေဧရိယာ (၂၀.၂၁) ဧကအနက်မှ မြေဧက (၁၈.၂၁)ဧကကို ငှားရမ်း၍ ပေါင်းဆန်နှင့် အဆင့်မြင့် ဆန်ဖြူ စိုက်ပျိုး ထုတ်လုပ် ကြိတ်ခွဲခြင်း၊ ၎င်းနှင့်ဆက်စပ်သော လယ်ယာသုံးစက်ပစ္စည်းများ အငှားလိုက်ခြင်း၊ အဆင့်မြင့် လယ်ယာကွက်များ ဖော်ထုတ်ပေးခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာသည့်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာသည့်ကိစ္စဖြစ်ပါသည်။

၂။ ကဥ္စနကျွန်းသာကုမ္ပဏီလီမိတက်မှ ငှားရမ်းလိုသည့် မြေနေရာသည် ဓနုဖြူ-ဟင်္သာတကားလမ်း၏ အရှေ့ဘက်ခြမ်းတွင် တည်ရှိပြီး ဧရာဝတီမြစ်ကမ်းနှင့် (၁၀၅၆) ပေ ကွာဝေးခြင်းကြောင့် ကမ်းပါးနယ်နှင့် လွတ်ကင်းမှုရှိပါသည်။ မြစ်ကမ်းနဖူးနှင့် ကုမ္ပဏီမှ ငှားရမ်းအသုံးပြုမည့် မြေနေရာကြားတွင် ဆည်မြောင်း မြေသားတာ ရှိပါသည်။

၃။ ကုမ္ပဏီအနေဖြင့် ရေကြောင်းရေလမ်းကိုအသုံးပြု၍ ဆိပ်ခံတံတား တည်ဆောက်အသုံးပြုမည် ဖြစ်ကြောင်းသိရှိရပြီး ဆိပ်ခံတံတား တည်ဆောက်အသုံးပြုမည်ဆိုပါက ရေအရင်းအမြစ်နှင့် မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာနသို့ အဆိုပြုဆိပ်ခံတံတား ဒီဇိုင်းများဖြင့် ပြည့်စုံစွာ လျှောက်ထားဆောင်ရွက်ရမည်ဖြစ်ပါသည်။

၄။ ထို့အပြင် ကဥ္စနကျွန်းသာ ကုမ္ပဏီလီမိတက် (Gold Delta Company Limited) မှ ငှားရမ်း ဆောင်ရွက်မည့် မြေနေရာနှင့် ဆိပ်ခံတံတားသို့ သီးခြားအဝင်လမ်း မရှိခြင်းကြောင့် အဆင်းလမ်း ဆောင်ရွက်မည့်နေရာ၏ မြေပိုင်ရှင်များနှင့် ညှိနှိုင်းခြင်း၊ ဆည်မြောင်း မြေသားတာကို ဖြတ်ကျော်၍

ဆောင်ရွက်ရမည်ဖြစ်သဖြင့် ဆည်မြောင်းနှင့် ရေအသုံးချမှုစီမံခန့်ခွဲရေးဦးစီးဌာနထံ သဘောထား တောင်းခံ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို-

- စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
- ဆည်မြောင်းနှင့် ရေအသုံးချမှုစီမံခန့်ခွဲရေးဦးစီးဌာန
- ရေအရင်းအမြစ်နှင့် မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန
- ရုံးလက်ခံ
- မျှောစာတွဲ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၅- စမ(၂) ၂၀၁၈-၂၀၁၉( ၃၈၀၉ )

ရက် စွဲ၊ ၂၀၁၉ ခုနှစ်၊ ဩဂုတ်လ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁.၇.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက- ၂ / ခ - ၀၄၉ / ၂၀၁၉ ( ၂၃၀ )

၁။ Gold Delta Company Limited မှ ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ ဓနုဖြူမြို့နယ်၊ အုန်းပင်ကွင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်(၂၀၁)သာပေါင်း၊ ဦးပိုင်အမှတ်( ၁၁+၂၈ )ရှိ စုစုပေါင်းမြေဧရိယာ( ၂၀.၂၁ )ဧကအနက်မှ မြေ ( ၁၈.၂၁ )ဧကတွင် ငှားရမ်း၍ ပေါင်းဆန်နှင့် အဆင့်မြင့်ဆန်ဖြူစိုက်ပျိုး ထုတ်လုပ်ကြိတ်ခွဲခြင်း၊ ၎င်းနှင့်ဆက်စပ်သော လယ်ယာသုံးစက်ပစ္စည်းများ အငှားလိုက်ခြင်း၊ အဆင့်မြင့်လယ်ယာကွက်များ ဖော်ထုတ်ပေးခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် လုပ်ငန်းနှင့်စပ်လျဉ်း၍ တင်သွင်းမည့် စက်ပစ္စည်းများသည် လုပ်ငန်းသဘာဝနှင့် ကိုက်ညီခြင်းရှိ/မရှိအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှ ဆောင်ရွက်မည့် လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ကုမ္ပဏီမှ အဆိုပြုထားသော ရင်းနှီးမြှုပ်နှံမှုပမာဏငွေကျပ် ( ၃၅,၀၀၀ ) သန်းအနက်မှ ယာဉ်/ယန္တရားနှင့်စက်ပစ္စည်းကိရိယာအမျိုးအစား( ၁၃ )မျိုးကို အမေရိကန်ဒေါ်လာ( ၁၅,၀၁၇,၅၀၀ )နှင့် ညီမျှသော မြန်မာငွေကျပ် ( ၂၂,၅၂၅ .၅၀၀ ) သန်းဖြင့် ဝယ်ယူအသုံးမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

( ခ ) Civil Work ( 1 ) Item၊ Electrical Work ( 14 ) Items၊ Machinery ( 13 ) Items တို့အား တရုတ်၊ အီတလီနှင့် စင်္ကာပူနိုင်ငံတို့မှ တင်သွင်းမည် ဖြစ်ပါသည်။

( ဂ ) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ သတ်မှတ်ထားသော စည်းကမ်းချက်များနှင့် ကိုက်ညီရမည် ဖြစ်ပါသည်။ ယာဉ် / ယန္တရားများ ဝယ်ယူတွင်

သွင်းရာတွင်လည်း စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနမှ ၂၀၁၉ ခုနှစ်အတွက် ထုတ်ပြန်ထားသည့် စည်းကမ်းချက်များအတိုင်း လိုက်နာဆောင်ရွက်သင့်ပါသည်။

(ဃ) စက်ပစ္စည်းတန်ဖိုးများမှာ အနီးစပ်ဆုံး မှန်ကန်မှုရှိ၍ အသုံးပြုမည့်စက်ပစ္စည်းနှင့် ကုန်ကြမ်းများမှာ အမှန်တကယ်လိုအပ်ကြောင်း စိစစ်တွေ့ရှိရပြီး Energy သုံးစွဲမှုနည်းသော စက်ပစ္စည်းများဖြစ်ရန်နှင့် ထိခိုက်မှုနည်းစေရန် အစီအမံများ ပါရှိရန် လိုအပ်ပါသည်။

( င ) တင်သွင်းမည့်မီးစက်များမှာ Efficient ဖြစ်ရန်နှင့် တုန်ခါမှု၊ အသံဆူညံမှုနည်းသော Sound Proof Type မီးစက်များဖြစ်ရန် လိုအပ်ပါသည်။

( စ ) ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ခြင်းအတွက် လူနှင့်သဘာဝပတ်ဝန်းကျင် ထိခိုက်မှုမရှိစေရေးနှင့် စက်ရုံအတွင်း လုပ်သားများ၏ ကျန်းမာရေးစောင့်ရှောက်မှုတို့ကို စနစ်တကျ အစီအမံများရေးဆွဲပြီး ကြပ်မတ်ထိန်းသိမ်းဆောင်ရွက်သင့်ပါသည်။

(ဆ) Biomass Power Generation Plant ( 1-1.5 MW ) အတွက် သဘာဝပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေရေး စီမံဆောင်ရွက်ရန်နှင့် ဘွိုင်လာဥပဒေ၊ လျှပ်စစ်ဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Gold Delta Company Limited မှ ပေါင်းဆန်နှင့် အဆင့်မြင့်ဆန်ဖြူစိုက်ပျိုးထုတ်လုပ်ကြိတ်ခွဲခြင်း၊ ၎င်းနှင့်ဆက်စပ်သော လယ်ယာသုံးစက်ပစ္စည်းများ အငှားလိုက်ခြင်း၊ အဆင့်မြင့်လယ်ယာကွက်များ ဖော်ထုတ်ပေးခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ တင်သွင်းမည့် စက်ပစ္စည်းများသည် လုပ်ငန်းသဘာဝနှင့် ကိုက်ညီမှုရှိပါကြောင်းနှင့် အထက်ပါ လိုအပ်ချက်များ ဖြည့်ဆည်းဆောင်ရွက်မည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

အမှတ်( ၁ )အကြီးစားစက်မှုလုပ်ငန်း

မျှောစာတွဲ

ရုံးလက်ခံ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၇၀/၂၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဩဂုတ်လ ၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ကဋ္ဌနကျွန်းသာ ကုမ္ပဏီလီမိတက် (Gold Delta Company Limited) မှ ပေါင်းဆန်နှင့် အဆင့်မြင့်ဆန်ဖြူ စိုက်ပျိုးထုတ်လုပ်ကြိတ်ခွဲခြင်း၊ ၎င်းနှင့်ဆက်စပ်သော လယ်ယာသုံးစက်ပစ္စည်းများ အငှားလိုက်ခြင်း၊ အဆင့်မြင့် လယ်ယာကွက်များ ဖော်ထုတ်ပေးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၇-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ခ-၀၄၉/၂၀၁၉ (၂၂၀)

၁။ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ကဋ္ဌနကျွန်းသာ ကုမ္ပဏီလီမိတက် (Gold Delta Company Limited) မှ ဦးပိုင်အမှတ်- ၁၁+၂၈၊ ကွင်းအမှတ်- ၂၀၁ (သာပေါင်း)၊ အုန်းပင်ကွင်းကျေးရွာအုပ်စု၊ ဓနုဖြူမြို့နယ်၊ မအူပင်ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီးအတွင်းရှိ စုစုပေါင်းမြေဧရိယာ ၂၀.၂၁ ဧကအနက်မှ မြေဧက ၁၈.၂၁ ဧက (၇၃,၆၉၃.၂၅ စတုရန်းမီတာ) ကိုငှားရမ်း၍ ပေါင်းဆန်နှင့်အဆင့်မြင့်ဆန်ဖြူ စိုက်ပျိုးထုတ်လုပ်ကြိတ်ခွဲခြင်း၊ ၎င်းနှင့်ဆက်စပ်သော လယ်ယာသုံးစက်ပစ္စည်းများ အငှားလိုက်ခြင်း၊ အဆင့်မြင့် လယ်ယာကွက်များ ဖော်ထုတ်ပေးခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကိုလေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှု ကာလမှာ(၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ် ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ (၇၃,၆၉၃.၂၅ စတုရန်းမီတာ) ပေါ်တွင် Office Building၊ Brief Hall Building၊ Fertilizer Ware House၊ Maintenance Work Shop၊ Dryer & Ware House Building၊ MDB Power House၊ Guard House Building၊ Toilet Building၊ Tractor Yard နှင့် Pump House တို့ တည်ဆောက်ပြီးဖြစ်ပြီး၊ Paddy Ware House & Paddy Dryer House၊ Rice Mill Workshop၊ Finished Parts Workshop၊ Paddy ware House၊ Finished Parts Machine၊ Rice Flour Factory၊ QC Laboratory၊ Staff Hostel၊ VIP House နှင့် Jetty တို့အား ထပ်မံတည်ဆောက်ကာ လုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ လိုအပ်သော လိုအပ်သော ကုန်ကြမ်းများရရှိရန် ကန်ထရိုက်လယ်ယာစိုက်ပျိုးရေးစနစ်ဖြင့်လည်းကောင်း၊ အငှားလိုက် ဝန်ဆောင်မှု စနစ်ဖြင့်လည်းကောင်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) ပေါင်းဆန်နှင့်အဆင့်မြင့် ဆန်ဖြူ စိုက်ပျိုးထုတ်လုပ်ကြိတ်ခွဲခြင်းမှ အနေဖြင့် တစ်နှစ်လျှင် ပျမ်းမျှ တန် (၁၉၀၀၀) ခန့် ကြိတ်ခွဲမည်ဖြစ်ပြီး၊ လုပ်ငန်းအတွက် နှစ်စဉ် ရေလိုအပ်ချက်မှာ ဂါလံ (၃.၆) သန်း ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်း ထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ် ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) ကဥ္စနကျွန်းသာ ကုမ္ပဏီလီမိတက် (Gold Delta Company Limited) မှ ပေါင်းဆန်နှင့်အဆင့်မြင့်ဆန်ဖြူ စိုက်ပျိုးထုတ်လုပ်ကြိတ်ခွဲခြင်း၊ ၎င်းနှင့်ဆက်စပ်သော လယ်ယာသုံးစက်ပစ္စည်းများ အငှားလိုက်ခြင်း၊ အဆင့်မြင့် လယ်ယာကွက်များ ဖော်ထုတ်ပေးခြင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် အဆောက်အဦ တည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင်ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ လုပ်ငန်း သုံးယာဉ်/ ယန္တရားများမှ ထွက်ရှိ လာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီး ပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့်စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိမြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့် ရေအားစနစ်တကျ ထုတ်ယူသုံးစွဲမှုမရှိခြင်းကြောင့်မြေအောက်ရေ အရည်အသွေးနှင့် မျက်နှာပြင်နိမ့်ကျခြင်း၊

(င) ပေါင်းဆန်နှင့် ဆန်ဖြူစိုက်ပျိုး ထုတ်လုပ်ကြိတ်ခွဲခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် စပါးခွံများ၊ စက်ရုံမှထွက်ရှိလာမည့်စွန့်ပစ်ပစ္စည်း အစိုင်အခဲများ၊ စက်ယန္တရားများမှ ထွက်ရှိလာမည့် စက်မောင်းဆီ ဖိတ်စင်မှုများစသည့် စွန့်ပစ်ပစ္စည်းအရည်များကို

စနစ်တကျစီမံခန့်ခွဲ ခြင်းမပြုပါက ပတ်ဝန်းကျင်ရေ၊ လေနှင့် မြေဆီလွှာ ထိခိုက်မှုများဖြစ်ပေါ်နိုင်ခြင်း၊ စက်ရုံလုပ်ငန်းခွင်မှ ထွက်ရှိလာနိုင်သော ဆူညံသံများ၊ ဖုန်မှုန့်များ၊ မီးခိုးများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုများဖြစ်နိုင်ခြင်း၊ ကုန်ပစ္စည်းများ တင်/ချ ပြုလုပ်ရန် ဆိပ်ကမ်းနှင့် စက်သုံးဆီ သိုလှောင်ကန်များ တည်ဆောက်ခြင်း၊ စက်သုံးဆီများ သယ်ယူခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်း လုပ်ငန်းအဆင့်ဆင့် ဆောင်ရွက်ရာတွင် စွန့်ပစ်အရည်၊ စွန့်ပစ်ပစ္စည်းများကြောင့် ရေ၊ မြေ ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊ ဆီသင်္ဘောများမှ မတော်တဆယိုဖိတ်မှုကြောင့် ရေသတ္တဝါများ၏ ဂေဟစနစ်ထိခိုက်နိုင်ခြင်း စသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများဖြစ် ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ ကဥ္စနကျွန်းသာ ကုမ္ပဏီလီမိတက် (Gold Delta Company Limited) မှ ပေါင်းဆန်နှင့် အဆင့်မြင့်ဆန်ဖြူ စိုက်ပျိုးထုတ်လုပ်ကြိတ်ခွဲခြင်း၊ ၎င်းနှင့်ဆက်စပ်သော လယ်ယာသုံးစက်ပစ္စည်းများ အငှားလိုက်ခြင်း၊ အဆင့်မြင့်လယ်ယာကွက်များ ဖော်ထုတ်ပေးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါ ရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြား အပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင် အမြတ်ငွေ၏ (၂%) ကိုအသုံးပြုခြင်း အပါ အဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်း **(EnvironmentalImpact Assessment-EIA)** မစတင်မီအဆိုပါလုပ်ငန်းကိုဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက် ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦး

စီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက် ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ဖြည့်စွက်၍ တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ဧရာဝတီတိုင်းဒေသကြီး
ရုံးလက်ခံ